**အကြောင်းအရာ။** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Step Centre International Services Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - Step Centre International Services Co., Ltd.<br>- ဦးလားဆွေဇမ်းမာ<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်- ၁၁အေ/ ၆+၁၁ဘီ/၄၊ မြေတိုင်းရပ်ကွက်အမှတ်- ၇၆၊ မာလာလမ်းသွယ်၊ ကမာရွတ်(၂) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>မြေငှားရမ်းခ (တစ်နှစ်)<br>မြေ အသုံးပြုခွင့်သက်တမ်း | - ဒေါ်ယဉ်သူဇာလွင်<br>- ၀.၂၅၀ ဧက<br>- ကျပ် ၂၈.၈၀၀ သန်း<br>- |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - ၅၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | ကျပ် ၃၅၀.၀၀၀ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | **ကျပ် (သန်း)** |
| | ငွေသား | ၂၇၁.၂၀၀ |
| | မြေငှားရမ်းခ | ၂၈.၈၀၀ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | ၅၀.၀၀၀ |
| | စုစုပေါင်း | **၃၅၀.၀၀၀** |
| ၇။ | ဝန်ဆောင်မှု(ပထမနှစ်) | |

| စဉ် | အမျိုးအမည် | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (တစ်လ/ကျပ်) |
|---|---|---|---|
| (က) | Nursery | ၃၆ | ၁၀၀,၀၀၀ |
| (ခ) | Pre-Kindergarten (K-4) | ၃၆ | ၁၀၀,၀၀၀ |
| (ဂ) | Kindergerten (K-5) | ၃၄ | ၁၀၀,၀၀၀ |

| | | | | | |
|---|---|---|---|---|---|
| | | (ဃ) | Grade 1 | ၃၃ | ၁၀၀,၀၀၀ |
| | | (င) | Grade-2 | ၃၀ | ၁၀၀,၀၀၀ |
| | | (စ) | Grade-3 | ၂၈ | ၁၀၀,၀၀၀ |
| | | (ဆ) | Grade-4 | ၃၅ | ၁၀၀,၀၀၀ |
| | | (ဇ) | Grade-5 | ၃၄ | ၁၀၀,၀၀၀ |
| | | (ဈ) | Grade-6 | ၃၁ | ၁၅၀,၀၀၀ |
| | | (ည) | Grade-7 | ၂၇ | ၁၅၀,၀၀၀ |
| | | (ဋ) | Grade-8 | ၃၀ | ၁၅၀,၀၀၀ |
| | | (ဌ) | Grade-9 | ၁၅ | ၁၅၀,၀၀၀ |
| | | (ဍ) | Grade-10 | ၁၀ | ၁၅၀,၀၀၀ |
| | | (ဎ) | Grade-11 | ၅ | ၁၅၀,၀၀၀ |
| | | (ဏ) | Grade-12 | ၂ | ၁၅၀,၀၀၀ |

| | | |
|---|---|---|
| ၈။ | ဝန်ထမ်းခန့်ထားမှု | **သင်ကြားရေး**<br>ပြည်တွင်း / ပြည်ပ<br>**ဦးရေ** ၂၅ ဦး / မရှိပါ။<br>**အမြင့်ဆုံးလစာ(ကျပ်)**<br>**အနိမ့်ဆုံးလစာ(ကျပ်)** ၅၀၀,၀၀၀<br><br>**စီမံခန့်ခွဲရေး**<br>ပြည်တွင်း / ပြည်ပ<br>**ဦးရေ** ၁၀ ဦး / မရှိပါ။<br>**အမြင့်ဆုံးလစာ(ကျပ်)** ၈၀၀,၀၀၀<br>**အနိမ့်ဆုံးလစာ(ကျပ်)** ၁၅၀,၀၀၀ |
| ၉။ | အခြားတင်ပြချက် | - Step Centre International Services Co., Ltd. ၏ ကုမ္ပဏီ မှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ လုပ်ငန်းခွင်ဘေးကင်းရေး နှင့် သက်သာချောင်ချိရေးအစီအစဉ်၊ အမျိုးသားပညာရေးဥပဒေ လိုက်နာမည့် ဝန်ခံချက်၊ ဆရာ/ ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများ၊ CSR ဆောင်ရွက်မည့်အစီအစဉ်၊ ဆရာ/ ဆရာမများနှင့် စီမံခန့်ခွဲရေး ဝန်ထမ်းလုံလောက်မှု ရှိကြောင်း နှင့် ဝန်ထမ်းလစာအပေါ်တွင် ဝင်ငွေခွန်ပေးဆောင်မည့် ဝန်ခံကတိ တို့အား တင်ပြထားပါသည်။<br>- မြေနှင့်အဆောက်အဦငှားရမ်းခြင်းစာချုပ်နှင့် ပိုင်ဆိုင်မှု အထောက် အထားများအား တင်ပြထားပါသည်။<br>- သင်ကြားပေးမည့်အစီအစဉ်နှင့် ပေးအပ်မည့်အောင်လက်မှတ် |

| | | |
|---|---|---|
| | | (နမူနာ) များအား တင်ပြထားပါသည်။<br>- Sunrise Christian Academy (SCA) နှင့် ချိတ်ဆက်ထားသည့် အထောက်အထားများအား တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် ကမ္ဘာဇဘဏ်တွင် ဦးလားဆွေဇမ်းမာ အမည်ဖြင့် ၂၁-၅-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၈၂,၅၈၅,၂၅၉.၆၂ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ကုမ္ပဏီမှ ပညာရေးဝန်ဆောင်မှု လုပ်ငန်း များအား ၂၀၁၄ ခုနှစ်မှ စ၍ဆောင်ရွက်နေပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅(အ)/အ-၀၄၁/ ၂၀၁၉(၄၆၆)

ရက်စွဲ၊ ၂၀၁၉ခုနှစ် အောက်တိုဘာ လ ၈ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Step Centre International Services Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Step Centre International Services Co., Ltd. မှ မြေကွက်အမှတ်-၁၁အေ/ ဗ+၁၁ဘီ/၄၊ မြေတိုင်းရပ်ကွက်အမှတ်- ၇၆၊ မာလာလမ်းသွယ်၊ ကမာရွတ် (၂) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၀.၂၅ ကေတွင် **ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား** မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ Step Centre International Services Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံ တင်လက်မှတ်၊ ဝန်ထမ်းများ၏ လုပ်ငန်းခွင်ဘေးကင်းရေး နှင့် သက်သာချောင်ချိရေး အစီအစဉ်၊ အမျိုးသားပညာရေးဥပဒေ လိုက်နာမည့် ဝန်ခံချက်၊ ဆရာ/ ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများ၊ CSR ဆောင်ရွက်မည့်အစီအစဉ်၊ ဆရာ/ ဆရာမများနှင့် စီမံခန့်ခွဲရေး ဝန်ထမ်းလုံလောက်မှု ရှိကြောင်း အထောက်အထားများအား ပူးတွဲတင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၁၀ နှစ် ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် ငှားရမ်းမည်ဖြစ်ပါသည်။ စုစုပေါင်းမြေ ၀.၂၅၀ ကေပေါ်ရှိ (၂) ထပ်အဆောက်အဦ အား ငှားရမ်း၍ နှစ်စဉ်ငှားရမ်းခမှာ ကျပ် ၂၈.၀၀၀ သန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၅၀ နှစ် ဆောင်ရွက်မည်ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ် ၁ ကြိမ် ဆောင်ရွက်မည်ဖြစ်ပါသည်။

၅။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းထည့်ဝင်ပြီးမတည်ငွေရင်းပမာဏမှာ ကျပ် ၃၅၀.၀၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၂၇၁.၂၀၀ |
| မြေငှားရမ်းခ | ၂၈.၈၀၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | ၅၀.၀၀၀ |
| **စုစုပေါင်း** | **၃၅၀.၀၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးတွင် ပြည်တွင်းဝန်ထမ်း ၂၅ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးတွင် ပြည်တွင်းဝန်ထမ်း ၁၀ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့်အမျိုးအစားများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ဝန်ဆောင်မှု အမျိုးအမည် | ကျောင်းသား ဦးရေ | ဝန်ဆောင်ခ (တစ်လ/ကျပ်) |
|---|---|---|---|
| (က) | Nursery | ၃၆ | ၁၀၀,၀၀၀ |
| (ခ) | Pre-Kindergarten(K-4) | ၃၆ | ၁၀၀,၀၀၀ |
| (ဂ) | Kindergarten(K-5) | ၃၄ | ၁၀၀,၀၀၀ |
| (ဃ) | Grade 1 | ၃၃ | ၁၀၀,၀၀၀ |
| (င) | Grade-2 | ၃၀ | ၁၀၀,၀၀၀ |
| (စ) | Grade-3 | ၂၈ | ၁၀၀,၀၀၀ |
| (ဆ) | Grade-4 | ၃၅ | ၁၀၀,၀၀၀ |
| (ဇ) | Grade-5 | ၃၄ | ၁၀၀,၀၀၀ |
| (ဈ) | Grade-6 | ၃၁ | ၁၅၀,၀၀၀ |
| (ည) | Grade-7 | ၂၇ | ၁၅၀,၀၀၀ |
| (ဋ) | Grade-8 | ၃၀ | ၁၅၀,၀၀၀ |
| (ဌ) | Grade-9 | ၁၅ | ၁၅၀,၀၀၀ |
| (ဍ) | Grade-10 | ၁၀ | ၁၅၀,၀၀၀ |
| (ဎ) | Grade-11 | ၅ | ၁၅၀,၀၀၀ |
| (ဏ) | Grade-12 | ၂ | ၁၅၀,၀၀၀ |

၈။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၉ ခုနှစ် အောက်တိုဘာလ ၃ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၄၀/၂၀၁၉၊ ဆုံးဖြတ်ချက်အပိုဒ် (၁၈) အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) ပညာရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)

အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါကပုဂ္ဂလိက ရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက်ပေးသွားမည် ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်တွင် ဦးလားဆွေဇမ်းမာ အမည်ဖြင့် ၂၁-၅-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၈၂,၅၈၅,၂၅၉.၉၂ ရှိ ကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အတည်ပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) ကော်မရှင်အတည်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) ကုမ္ပဏီမှ ပညာရေးဝန်ဆောင်မှု လုပ်ငန်းများအား ၂၀၁၄ ခုနှစ်မှ စ၍ဆောင်ရွက်နေပါကြောင်း စိစစ်တွေ့ရှိရသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Step Centre International Services Co., Ltd. **မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား** မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြလာခြင်းနှင့်စပ်လျဉ်း၍အတည်ပြုမိန့်ထုတ်ပေးရန်သဘောတူ-မတူ။

ဥက္ကာဋ္ဌ (ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ အောက်တိုဘာလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၉.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၄၁ / ၂၀၁၉ (၄၂၂)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Step Centre International Services Co..,Ltd မှ ကွင်းအမှတ်-၅၇၁ᵃ(ရင်းတိုက်ပင်)၊ ဦးပိုင်အမှတ်-၃၈/၁၊ ၃၉/၂၊ အင်းလျှက်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၇၈ ဧကအစား မြေကွက်အမှတ်- ၁၁ အေ/ ၆ + ၁၁ ဘီ/၄ ၊ မြေတိုင်းရပ်ကွက်အမှတ်-၇၆ ၊ မာလာလမ်းသွယ်၊ ကမာရွတ်(၂)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ဝ.၂၅၀ ဧကၽြ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက်ပြန်ကြား ပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၃.၁၀.၂၀.၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၀/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၈)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကမာရွတ်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မှော်ဘီမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Step Centre International Services Co..,Ltd
လက်ခံစာတွဲ/မျှောစာတွဲ

D/2019/Cabinet 40(3)

| ဝင်စာအမှတ် | My-7772 |
| --- | --- |
| ရက်စွဲ | 1-8-19 |



Dh 178 / 7.8.19

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပညာရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

NPT-3199
25-7-19

စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်)၁၅၇၂/၂၀၁၉(၂၁၄၄၃)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၇-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ခ-၀၄၁/၂၀၁၉(၃၆၃)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Step Centre International Services Co., Ltd. မှ ကွင်းအမှတ်-၅၇၁ᶜ (ရင်းတိုက်ပင်)၊ ဦးပိုင်အမှတ်-၃၈/၁၊ ၃၉/၂၊ အင်းလျှက်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၇၈ ဧက တွင် ပညာရေးဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ဖော်ပြပါ သတ်မှတ်ချက်များကို မဖြစ်မနေ စိစစ်ရန်နှင့် Step Centre International Services Co., Ltd. ၏ ပညာရေး ဝန်ဆောင်မှုလုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန်လည်း လိုအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့်အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိက ကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက် အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများသည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိ ခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာ၊ ဆေးလိပ်နှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

(ဒ) လုံခြုံဘေးကင်းပြီး ကလေးပျော် စံပြစာသင်ကျောင်း ဆောက်လုပ်ရေး လမ်းညွှန်ချက်နှင့်အညီ ဆောင်ရွက်ရန် ကတိပြုဝန်ခံချက် (Safe and Child-friendly School Construction Guidelines)

၃။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၃၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Step Centre International Services Co., Ltd. မှ ကွင်းအမှတ်-၅၇၁ᵃ (ရင်းတိုက်ပင်)၊ ဦးပိုင်အမှတ်-၃၈/၁၊ ၃၉/၂၊ အင်းလျှက် ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၁၃.၇၈ ဧက တွင် ပညာရေးဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်း၊ ပညာရေးဝန်ဆောင်မှု ဆိုင်ရာလုပ်ငန်းများအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်း များနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်းနှင့် ပညာရေးလုပ်ငန်း ခွင့်ပြုချက်ရရှိရန် အချိန်ယူစိစစ်ဆောင်ရွက်ရသည့်အတွက် ၂၀၁၉ခုနှစ်၊ ဩဂုတ်လ(၅)ရက် ပြန်ကြားရန်ခက်ခဲပါကြောင်း (အမျိုးသား ပညာရေး ဥပဒေ ပုဒ်မ - ၂ (ဓ) အရ အမျိုးသားပညာရေးမူဝါဒကော်မရှင်၊ အမျိုးသားပညာရေးအဆင့်အတန်းနှင့် အရည်အသွေးအာမခံမှု အကဲဖြတ်ရေးကော်မတီနှင့် ပါမောက္ခချုပ်များကော်မတီတို့၏ သဘောထားရယူရန်လိုကြောင်း) ပြန်ကြားအပ်ပါသည်။

Kyaw Naing
24-7-19.

ဒုတိယဝန်ကြီး (ကိုယ်စား)
( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

မျှောစာတွဲ